PETROCHEMICAL REFINING
Monywa petrochemical refining refinery company limited
No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367



# ပြည်တွင်းမှ ဝယ်ယူမည့် ပစ္စည်းစာရင်း

4. မြေနှင့်အဆောက်အဦးအားလုံး၏ ကုန်ကျစရိတ်

| No. | Component | Model | Quantity | Kyat |
|---|---|---|---|---|
| 16 | Land purchasing | 28.32 Acres | 28.32 Acres | 35,098,239.00 |
| 17 | Civil engineering | | | 100,395,858.00 |
| 18 | Build a fence | 1500M*1.8M*0.26M | 1500 meters | 100,395,858.00 |
| 19 | Build road | 10M *1000M*0.25M | 1 km | 210,593,787.00 |
| 20 | Office building - dormitory building | 10M*5M*3M | 50 rooms | 210,593,787.00 |
| 21 | Fire pool | 200 m³ | 1 | 14,038,425.00 |
| 22 | Accident emergency pool | 500 m³ | 1 | 28,078,301.00 |
| 23 | Circulating pool | 500 m³ | 1 | 28,078,301.00 |
| 24 | Steel structure workshop | 2000m² | 2 rooms | 21,058,363.00 |
| | Total | | | 748,330,919.00 |

မှတ်ချက်။ ။ အထက်ပါကုန်ကျငွေတွင် လမ်းဖောက်လုပ်ခြင်း၊ အုတ်တံတိုင်းခတ်ခြင်း၊ ရေကန်များ တူးဖော်ခြင်း အပါအဝင်ဖြစ်ပါသည်။



PETROCHEMICAL REFINING

Monywa petrochemical refining refinery company limited

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367




(ဂ) သုံးစွဲမည့်လျှပ်စစ်ဓာတ်အားပမာဏ

Electric equipment table (လျှပ်စစ်ဓာတ်အားသုံးစွဲမည့်ကိရိယာပြဇယား)

| S/N | Electric devices | Motor power | Single unit power (KW) | Qty | Total (KW) | Commen ts |
|---|---|---|---|---|---|---|
| 1 | Steam boiler 2 tons of oil | 7.5KW+7.5KW +3KW+3KW+ 5.5KW+5.5KW | 16 | 1 set | 32 | 380V |
| 2 | Water cooling tower GBNL-100 | 5.5KW | 5.5 | 2 | 11 | 380V |
| 3 | Screw air compressor, whirlwind | 22KW | 22 | 2 | 44 | 380V |
| 4 | 1 Feed pump, screw 45*4-6 | 11KW | 11 | 2 s | 22 | 380V |
| 5 | 1 sewage pump 40CYZ-40 | 5.5KW | 5.5 | 2 | 11 | 380V |
| 6 | 1 Oil pump of initial distillation column bottom 40CYZ-40 | 5.5KW | 5.5 | 2 | 11 | 380V |
| 7 | 1 pump of first line of atmospheric fractionation column | 11KW | 11 | 2 | 22 | 380V |
| 8 | 1 pump of second line of atmospheric fractionation column RY50-32-250 | 11KW | 11 | 2 | 22 | 380V |
| 9 | 1 pump of atmospheric residue RY50-32-250 | 11KW | 11 | 2 | 22 | 380V |
| 10 | 1 circulating water pump IS125-100-250 | 37KW | 37 | 2 | 74 | 380V |

| | | | | | | |
|---|---|---|---|---|---|---|
| 11 | Fuel pump BCB63-1.6 | 3KW | 15 | 5 | 15 | 380V |
| 12 | 2 gasoline pump 25CYZ-35 | 4KW | 4 | 2 | 8 | 380V |
| 13 | 2 diesel pump RY40-25-160 | 7.5KW | 7.5 | 2 | 15 | 380V |
| 14 | 2 Circulation pump of reactor 50AYII60×2B | 15KW | 30 | 3 | 45 | 380V |
| 15 | Chiller Plant | 50KW | 50 | 1 set | 50 | 380V |
| 16 | 3 sewage pump 25CYZ-35 | 4KW | 4 | 2 | 8 | 380V |
| 17 | 3 gasoline pump 40CYZ-40 | 5.5KW | 5.5 | 2 | 11 | 380V |
| 18 | 3 feed pump shield pump | 7.5KW | 7.5 | 2 | 11 | 380V |
| 19 | 3 diesel pump, canned motor pump | 7.5KW | 7.5 | 2 | 11 | 380V |
| 20 | Unloading pump YHCB60/0.6 | 11KW | 11 | 2 | 22 | 380V |
| 21 | Gasoline loading pump 80CYZ-32 80CYZ-32 | 7.5KW | 7.5 | 2 | 15 | 380V |




| | | | | | | |
|---|---|---|---|---|---|---|
| 22 | Diesel loading pump 80CYZ-32 | 7.5KW | 7.5 | 2 | 15 | 380V |
| 23 | Standby blending pump 80CYZ-32 | 7.5KW | 7.5 | 2 | 15 | 380V |
| 24 | Asphalt pump RCB-38/0.8 | 15KW | 15 | 2 | 30 | 380V |
| 25 | Stirring tank motor | 11KW | 22 | 5 | 55 | 380V |
| 26 | Pressure filter | 5.5KW | 5.5 | 2 | 11 | 380V |
| 27 | Induced draft fan (ventilation) | 3KW | 3 | 2 | 6 | 380V |
| 28 | Relay pump 80CYZ-32 | 7.5KW | 7.5 | 2 | 15 | 380V |
| 29 | Filter pump RY80-50-250 | 22KW | 22 | 2 | 44 | 380V |
| 30 | Feed pump 80CYZ-32 | 7.5KW | 7.5 | 2 | 15 | 380V |
| 31 | Acid pump KCB-200 | 4KW | 4 | 2 | 8 | 380V |
| 32 | Product oil pump 80CYZ-32 | 7.5KW | 7.5 | 2 | 15 | 380V |
| 33 | Alkali injection pump 40CYZ-20 | 4KW | 4 | 2 | 8 | 380V |
| 34 | Circulation pump 50CYZ-70 | 11KW | 11 | 2 | 22 | 380V |
| 35 | Product oil pump 40CYZ-20 | 4KW | 4 | 2 | 8 | 380V |
| 36 | Waste water pump 40CYZ-20 | 4KW | 4 | 2 | 8 | 380V |
| 37 | Asphalt filler 80kg/min | 45KW | 45 | 1 | 45 | 380V |

| | | | | | | |
|---|---|---|---|---|---|---|
| 38 | Heat-preservation asphalt gear-pump | 15KW | 15 | 2 | 30 | 380V |
| 39 | Multistage pump PS50 | 37KW | 37 | 3 | 111 | 380V |
| 40 | Sewage treatment plant | 60KW | 60 | 1 set | 60 | 380V |
| 41 | Electricity for the device control room | 15KW | 15 | | 15 | 220V Estimate |
| 42 | Laboratory | 30KW | 30 | | 30 | 220V Estimate |
| 44 | Installation lighting | 15KW | 15 | | 15 | 220V Estimate |
| 45 | Living area | 50KW | 50 | | 50 | 220V Estimate |
| 46 | Submersible pump (domestic water, industrial water) | 11KW | 11 | 2 | 22 | 380V |
| 47 | Other electricity consumption | 30KW | 30 | | 30 | |
| | TOTAL | | 725 | | 1165 | |

Note: စက်ရုံ၏ စက်တစ်ခုလုံးအတွက် အမှန်တကယ် သုံးစွဲမည့် လျှပ်စစ်ဓာတ်အားများ 725KW ဖြစ်ပြီး အရံသင့်ထားရှိမည့် စက်များအတွက် 440KW ဖြစ်ပါသည်။ ထို့ကြောင့် စက်ရုံအတွက် လိုအပ်သော လျှပ်စစ်ဓာတ်အားရရှိရန် 850KVA ထရန်စဖော်မာတစ်လုံး ထိုင်ရမည်ဖြစ်ပါသည်။

# အခန်း(၂)
# ချက်လုပ်မည့်နည်းစဉ်

(က)နိဒါန်း

**Fuels Production (လောင်စာထုတ်လုပ်ခြင်း)**

လောင်စာထုတ်လုပ်ခြင်းတွင် အသုံးများသော ထုတ်ကုန်များဖြစ်သည့် Gasoline (petrol) production (ဓာတ်ဆီထုတ်လုပ်ခြင်း)နှင့် Diesel production (ဒီဇယ်ထုတ်လုပ်ခြင်း) တို့ဖြစ်ပါသည်။

Gasoline (Petrol) နှင့် Diesel fuels များသည် Crude oil (Petroleum) ဟုခေါ်သည်။ ရေနံစိမ်းကို အမျိုးမျိုးသော ပေါင်းခံစနစ် Refinery distillation process ကို အသုံးပြု၍ ထုတ်လုပ်ထားခြင်း ဖြစ်ပါသည်။ ရေနံစိမ်းတွင် organic hydrocarbon compounds များဖြစ်သည့် carbon နှင့် hydrogen atoms များ ဖွဲ့စည်းထားပြီး အခြား Hetero elements များ ဖြစ်သည့် Sulfur နှင့် Nitrogen အပြင် သတ္တုများ ဖြစ်သည့် nickel နှင့် vanadium အစရှိသည်တို့လည်း ပါဝင်ဖွဲ့စည်းထားသည်။ ရေနံစိမ်းကို ဖြစ်ပေါ်စေသည့် ထိုကွန်ပေါင်းများတွင် အသေးငယ်ဆုံးနှင့် အရိုးရှင်းဆုံးဖြစ်သော hydro-carbon molecule ဖြစ်သည့် methane $CH_4$ နှင့် ကြီးမားပြီး ရှုတ်ထွေးသော (Carbon, hydrogen and hetero elements) atoms 50 နှင့် အထက်ပါဝင်သော မော်လီကျူးများဖြင့် ဖွဲ့စည်းထားပေသည်။

ထို hydrocarbon molecule များ၏ ရုပ်ပိုင်းဂုဏ်သတ္တိ (the physical properties) နှင့် ဓါတုပိုင်း ဂုဏ်သတ္တိ (the chemical properties) များသည် မော်လီကျူးထဲရှိ carbon atoms အရေအတွက်ပေါ်တွင်သာ တည်မှီနေသည် မဟုတ်ပဲ ၄င်းတို့ကြားရှိ chemical bonds များ၏ သဘောသဘာဝအပေါ်တွင်လည်း တည်မှီနေပေသည်။ carbon atoms နှင့်အခြား hydrogen နှင့် hetero atoms တို့သည် နည်းလမ်းအမျိုးမျိုးဖြင့် ချိတ်ဆက်ထားပေသည်။ Signle bonds, double bonds နှင့် triple bonds စသည်ဖြင့် မတူညီသော hydrocarbon classes များဖြစ်ပေါ်လာပေသည်။

PETROCHEMICAL REFINING
Monywa petrochemical refining refinery company limited
No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367



## ရေနံစိမ်း၏ အရေးကြီးသော Hydrocarbon classes များ

### (1) Straight Chains



Normal Butane ($C_4H_{10}$)

### (2) Branched Chain



iso-butane ($C_4H_{10}$)

### Olefins



1- Hexene ($C_6 H_{12}$)

### Aromatics



Benzene ($C_6H_6$)

### Naphthenes



Cyclohexane ($C_6H_{12}$)

Paraffins, aromatics နှင့် naphthenes တို့သည် ရေနံစိမ်း၏ မူလဘူတ သဘာဝ အစိတ်အပိုင်းများ ဖြစ်သည်။ သို့သော် ဓာတ်ဆီ (gasoline) ထုတ်လုပ်ရန် အဓိကထားသည့် olefins သည် refining operations များမှ ထွက်ရှိလာခြင်း ဖြစ်သည်။ ရေနံစိမ်းတွင် မပါဝင်ပေ။ naphthenes များသည် aromatic compounds ထက် carbon နှင့် hydrogen (C/H) ပါဝင်မှု အချိုးမြင့်မားပြီး aromatic သည် paraffins ထက် မြင့်မားပြန်သည်။ ထို့ကြောင့် ရေနံစိမ်းတွင် (Light, Medium နှင့် Heavy) ဟူ၍ (၃)မျိုး ခွဲခြားနိုင်ပြီး heavier (သိပ်သည်းဆမြင့်မားသော (more dense) ဖြစ်လေလေ C/H အချိုးမြင့်လေလေဖြစ်သည်။ ရေနံစိမ်းတွင် ပါဝင်သော အမျိုးမျိုးသော hydrocarbon classes များ၏ ဂုဏ်သတ္တိ၊ ကာဗွန်အရေအတွက် ပျံ့နှံ့မှုနှင့် hetero elements ပါဝင်မှုအချိုးတို့သည် ထိုရေနံစိမ်းမှ ထုတ်လုပ်သော ထုတ်ကုန်များ၏ အရေအတွက်နှင့် အရည်အသွေးတို့ ပြဋ္ဌာန်းပေးသည်။ ဓာတ်ဆီနှင့် ဒီဇယ်လောင်စာ ချက်လုပ်မည့် ရေနံစိမ်းကို ၎င်းတွင် ပါဝင်သော အစိတ်အပိုင်းများနှင့် ဂုဏ်ရည်များကို သိရှိထားရန် အလွန်လိုအပ်သည်။ သို့သော် ရေနံစိမ်းများကို နှိုင်းယှဉ်ပြီး လျင်မြန်စွာ ခွဲခြားနိုင်ရန် အသုံးဝင်သော နည်းလမ်း(၂)ရပ်မှာ (၁) API gravity (a measure of density) နှင့် (၂) Sulfur content တို့ ဖြစ်ပေသည်။

**(1) API Gravity (Density)**

ရေနံစိမ်း၏ သိပ်သည်းဆ (density) သည် ထိုရေနံစိမ်းအားလုံးသည် light or heavy ဖြစ်သည်ကို သတ်မှတ်ပေသည်။ lighter crude တွင် သေးငယ်သော molecules များပါဝင်မှု မြင့်မားပြီး ဓာတ်ဆီ၊ ဂျက်လောင်စာဆီနှင့် ဒီဇယ်ဟူ၍ နှစ်သက်ရာကို ထုတ်ယူနိုင်သည်။ ကြီးမားသော မော်လီကျူးများ ပါဝင်သည့် heavier crudes သည် စက်ရုံအလုပ်ရုံသုံးဆီ၊ Asphalt နှင့် အခြား heavy products များကို ထုတ်လုပ်နိုင်သည်။ သို့မဟုတ် သေးငယ်သော မော်လီကျူး အဖြစ်သို့ ရရှိစေရန် နောက်ထပ် refining process ထပ်မံလုပ်ဆောင်ပြီး သယ်ယူပို့ ဆောင်ရေး ယာဉ်လောင်စာအဖြစ် ထည့်သွင်းနိုင်သည်။

ထို့အတွက်ကြောင့်ပင် ရေနံစိမ်းချက်လုပ်မှုဖြစ်စဉ်တွင် Distillation unit တစ်ခုတည်း လုပ်ဆောင်မည်ဆိုပါက စံချိန်မှီလောင်စာအနည်းငယ်ကိုသာ ရရှိမည်ဖြစ်ပြီး နိုင်ငံ၏ တန်ဘိုးမြင့်လှသော အရင်းအမြစ်ဖြစ်သည့် ရေနံစိမ်းကို အလဟဿ ဖြုန်းတီးရာရောက်မည်ဖြစ်သောကြောင့် အခြားဖြစ်စဉ်များ ဖြစ်သည့် Cracking ဖြစ်စဉ်နှင့် Upgrading ဖြစ်စဉ်များကို မဖြစ်မနေ လုပ်ဆောင်သင့်ပေသည်။

ရေနံချက်လုပ်ခြင်းလုပ်ငန်းတွင် ဆီတစ်မျိုး၏ density ကို API gravity ဟူသော စကားရပ်ဖြင့် ဖော်ပြလေ့ရှိသည်။ ဥပမာ Parameter တွင် (API) $35^0$ သည် $35^0$ API ဟူ၍ ဖြစ်သည်။ API gravity သည် density နှင့် ပြောင်းပြန် အချိုးပြောင်းလဲနေသည်။ ဥပမာ- အရာဝတ္ထုသည် ပေါ့လေလေ ၄င်း၏ API gravity သည် မြင့်လေလေဖြစ်သည်။ Definition အားဖြင့် ရေ၏ API gravity သည် $10^0$ ဖြစ်သည်။ အောက်ဖော်ပြပါသည် light crude ($35^0$APT) ၏ အရည်အသွေးနှင့် heavy crudes ($25^0$API) ကြားရှိ ကွာဟချက်ကို ဖော်ပြခြင်းဖြစ်သည်။

## Light နှင့် Heavy crude oil မှ သဘာဝထုတ်ကုန်




Light Gas
Gasoline
Distillate
Heavy oil

အထက်ဖော်ပြပါပုံအရ heavy crudes မှ သဘာဝ heavy oil ထုတ်ကုန်သည် ၂ဆ ဖြစ်နေပေသည်။ ထိုအချင်းအရာကို ထောက်ရှု၍ heavy oil မှ light product ရရှိရန် refineries ပြုလုပ်ရာတွင် Converting (Cracking) များစွာ ပြုလုပ်ရန် လိုအပ်ပါသည်။ ထို့ကြောင့် ရေနံစိမ်းသည် ပို၍ heavier ဖြစ်လေလေ convertion (cracking) များများ ပြုလုပ်ရန် လိုအပ်လေ ဖြစ်ပေသည်။

(၂) Sulfur content

ရေနံစိမ်းအတွင်း ပါဝင်သော Hetero-elements အားလုံးတွင် Sulfur သည် ရေနံစိမ်းသန့်စင်မှုဖြစ်စဉ်တွင် အရေးအပါဆုံး အကျိုးသက်ရောက်မှုရှိပေသည်။

ရေနံစိမ်းသန့်စင်ချက်လုပ်မည့် ကုန်ကြမ်းပစ္စည်းများတွင် ဆာဖာပါဝင်မှု မြင့်မားခြင်းသည် (၁)ရေနံစိမ်းချက်လုပ်နေသည့် ဖြစ်စဉ်တွင် လိုအပ်သော Chemical reaction ပြုလုပ်ရာတွင် အသုံးပြုသော the catalysts များကို ဓာတ်ပြယ်စေနိုင်သည်။ (၂) ရေနံစိမ်းသန့်စင်သည့် နေရာတွင် အသုံးပြုသော ကိရိယာများကို ပျက်စီးယိုယွင်းမှု ဖြစ်စေနိုင်သည်။ (၃) မလိုလားအပ်သော ပုံမှန်ထိန်းချုပ်ထားသည့် အခြေအနေမှ ခက်ခဲသော အခြေအနေဖြစ်စေနိုင်သည့် ဆာဖာကွန်ပေါင်းများမှ လေများ ပန်းထွက်လာခြင်းကို ဖြစ်စေနိုင်သည်။ (၄)ယာဉ်များတွင် အသုံးပြုသော ဆီတွင် ပါဝင်သော ဆာဖာသည် ပါဝင်မှုမြင့်မားလာပါက ယာဉ်အစိတ်အပိုင်းများ ပျက်စီးစေရုံသာမက လူကို ထိခိုက်စေနိုင်သည့် ဓာတ်ပေါင်းများဖြစ်သော Nitrogen oxide ထွက်ပေါ်လာခြင်းများ ဖြစ်စေနိုင်ပါသည်။ ထို့ကြောင့် ရေနံစိမ်းသန့်စင်ချက်လုပ်ရာတွင် ရေနံစိမ်း (Crude Oils) နှင့် ရေနံစိမ်းထုတ်ကုန် (refinery streams) အတွင်းမှ ဆာဖာကို ဖယ်ရှားပစ်ရန် လုပ်ဆောင်နိုင်မှု ရှိရမည်ဖြစ်ပေသည်။ ရေနံစိမ်းတွင် ဆာဖာပါဝင်မှု မြင့်မားလေလေ ထိုဆာဖာကို ထိန်းချုပ်ရန် လိုအပ်သည့် အတိုင်းအတာ မြင့်မားလေလေဖြစ်ပြီး ကုန်ကျစရိတ်ပို၍ များလေလေ ဖြစ်လေတော့သည်။

ရေနံစိမ်းနှင့် သန့်စင်ချက်လုပ်သည့် ဆီထဲတွင် ပါဝင်သော ဆာဖာပါဝင်မှုကို weight percent (wt%) သို့မဟုတ် parts per million by weight (PPMW) ဖြင့် ဖော်ပြလေ့ရှိသည်။ ရေနံစိမ်းသန့်စင်ချက်လုပ်သည့် လုပ်ငန်းတွင် ဆာဖာပါဝင်မှု အတိုင်းအတာသည် a threshold value (0.5wt% 5000ppmw) ထက်နည်းပါက Sweet (low sulfur) ဟု ခေါ်ကြပြီး ၄င်းထက်များပါက Sour (high sulfur) ဟု ခေါ်ဆိုကြသည်။ Sour crudes အများစု၏ ဆာဖာပါဝင်မှုသည်

1.0- 2.0wt% ဖြစ်ကြသည်။ သို့သော် အချို့တွင် >4wt% ထို့ကြောင့် ဓာတ်ဆီ၏ (Boiling range) သည် ဆာဖာပါဝင်မှု ပို၍ မြင့်မားလာပါက Lighter components ထက်ပို၍ မြင့်ပေသည်။

ထို့အတွက်ကြောင့်ပင် Desulfurization (ဆာဖာလျော့ချခြင်း) ဖြစ်စဉ်သည် အလွန်အရေး ပါလှပြီး ကုန်ချောအရည်အသွေး ကောင်းမွန်စေရန်မှာ unit တစ်ခုစီတွင် ဆာဖာ လျော့ချခြင်း (Desulfurization) မဖြစ်မနေပြုလုပ်ရပေမည်။ အဆင့်မီ ဓာတ်ဆီထုတ်လုပ်ရန် Alkali ကို အသုံးပြုရမည် ဖြစ်ပြီး အဆင့်မီ ဒီဇယ်ထုတ်လုပ်ရန် Acid ကို အသုံးပြုရမည် ဖြစ်ပါ သည်။

**API gravity နှင့် Sulfur content ဖြင့် ရေနံစိမ်းအမျိုးအစား ခွဲခြားခြင်း**

| Crude oil class | | Property Range | |
|---|---|---|---|
| | | Gravity ($^0$ API) | Sulfur (wt%) |
| 1 | Light sweet | 35-60 | 0.05% |
| 2 | Light sour | 35-60 | >0.5 |
| 3 | Medium sweet | 26-35 | 0-1.1 |
| 4 | Medium sour | 26-35 | >1.1 |
| 5 | Heavy sweet | 10-26 | 0-1.1 |
| 6 | Heavy sour | 10-26 | >1.1 |

အထက်ဖော်ပြပါ ဇယားသည် API gravity နှင့် Sulfur content ကို အခြေခံ၍ ရေနံစိမ်း အမျိုးအစားခွဲခြားရန်အတွက် အသုံးများသော ဇယားတစ်ခု ဖြစ်ပါသည်။ အသုံးပြုထားသော အမည်များသည် အားလုံး အသိအမှတ်ပြုပြီး ဖြစ်ပါသည်။

ရေနံစိမ်းမှ တန်ဖိုးရှိသော ထုတ်ကုန်များ (gasoline, Jet Puels, Kerosene and Diesel) ရရှိရန် ရေနံစိမ်းပေါင်းခံနည်းစနစ် (The process of fractional distillation) ကို လုပ်ဆောင် ရပေသည်။

## ချက်လုပ်မည့်နည်းစဉ်

ခေတ်သစ်ရေနံစိမ်းချက်လုပ်ရာတွင် အခြေခံအားဖြင့်

(၁) Separation (ပေါင်းခံပြီးရေနံစိမ်း၏ ရုပ်ဂုဏ်သတ္တိပြောင်းလဲစေခြင်း)

(၂)Conversion (လေးလံကြီးမားသောမော်လီကျူးများကို ကွဲကြေစေပြီး ရေနံစိမ်း၏ ဓာတ်ဂုဏ်သတ္တိ ပြောင်းလဲ စေခြင်း)

(၃) upgrading (အဆင့်မြှင့်တင်ခြင်း)ဟူ၍ (၃)မျိုးရှိပါသည်။ ထို့အပြင်-

ဈေးကွက်လိုအပ်ချက်နှင့်ကိုက်ညီသောအရည်အသွေးရှိသည့် ထုတ်ကုန်များရရှိရန် units အမျိုး မျိုးမှ ရရှိ လာသော ထုတ်ကုန်အချင်းချင်း ရောနှောပေးခြင်းBlending ပြုလုပ်ပေးရပါသည်။

ရေနံစိမ်းချက်လုပ်မည့် ဖြစ်စဉ်တွင်Separation တစ်ခုတည်းသာ လုပ်ဆောင်မည်ဆိုပါက စံချိန်မီ လောင်စာကို ရရှိမည်မဟုတ်ပါ။ နိုင်ငံ၏တန်ဘိုးမြင့်လှပြီး ပြန်လည်အစားထိုးမရနိုင်သည့် ရေနံစိမ်းများ ကို အလဟဿ ဖြုန်းတီးပစ်ရာရောက်မည်ဖြစ်ပါသည်။

ကျွန်တော်တို့စက်ရုံ၏ ချက်လုပ်မည့်နည်းစဉ်ကို ဖြစ်စဉ်(၃)ခုဖြင့် တင်ပြမည်ဖြစ်ပါသည်။

**ပထမဖြစ်စဉ် (Fractional Distillation Process)**

ပထမဖြစ်စဉ်တွင် အပိုင်း(၂)ပိုင်း ပါရှိပါသည်။ ၎င်းတို့မှာ (၁)စတင်ချက်လုပ်မည့်အပိုင်းနှင့် (၂)ပြန်လည် ချက်လုပ်မည့်အပိုင်း တို့ဖြစ်ပါသည်။

- စတင်ချက်လုပ်မည့်အပိုင်းတွင် (၁)Straight-Tube Heat Exchanger①,②- (၂)ခု, (၂)Heat Exchanger③,④,⑤- (၃)ခု, (၃)Fractionating Tower ⑥-(၁)ခုနှင့် (၄)Heating Furnace ⑦-(၁)ခုတို့ပါဝင်ပါသည်။
- ပြန်လည်ချက်လုပ်မည့်အပိုင်းတွင် (၁)Heating Furnace ⑦ -(၁)ခု, (၂)Distillation Tower ⑧-(၁)ခု, (၃) Condenser ⑨,⑩,⑪-(၃)ခု, (၄) Oil water Separation Tank ⑫-(၁)ခုတို့ ပါဝင်ပါသည်။







Monywa petrochemical refining refinery company limited
No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## (၁)စတင်ချက်လုပ်မည့်အပိုင်း

ကျွန်တော်တို့ စက်ရုံ၏ ထူးခြားချက်မှာ အဆို့ရှင် valves အမျိုးမျိုးကိုအသုံးပြုပြီး ကုန်ကြမ်းသွင်းသည့် နေရာမှနေပြီးကုန်ချောပြန်ထွက်စေပါသည်။ အဆင့်မြင့် ပိုက်လိုင်း ဆက်သွယ်မည့် စနစ်ကို အ သုံးပြုထားခြင်း ဖြစ်ပါ သည်။

Heating Exchanger များကို အပူအအေး(၂)မျိုးရရှိအောင် ပြုလုပ်ထားခြင်းဖြစ်ပါသည်။ ကုန်ကြမ်းကို အပူပေးပြီး ကုန်ချောကို အအေးခံပါသည်။

ကျွန်တော်တို့စက်ရုံ၏ ကုန်ကြမ်းပို့သည့်နေရာကို a, b, c ဟူ၍ (၃)နေရာ ပြုလုပ်ထားပါသည်။ Heat Exchanger (၅)ခုသည် Preheating ပြုလုပ်ရန်အတွက်ဖြစ်ပါသည်။

ပထမဦးစွာ ရေနံစိမ်းကို အနယ်ထိုင်စေကာ filterအမျိုးမျိုးဖြင့်စစ်စေပြီး ကုန်ကြမ်းပို့သည့် "c" နေရာမှ Heat Exchanger ⑤ဆီသို့ ပို့လိုက်ပါသည်။ Heat Exchanger ⑤မှ ④၊ ④မှ ③ အဆင့်ဆင့် အဆို့ရှင်ကို အသုံးပြု၍ ပို့ပါသည်။ Heat Exchanger ③မှ ထွက်လာသော Gas များကို Heating Furnace သို့ပို့ပြီး မီးရှို့ကာ အပူစွမ်းအင်ကိုရယူပါသည်။

"b" မှ ပို့လိုက်သည့် ကုန်ကြမ်းများကို Straight-Tube Heat Exchanger ②ကို ဖြတ်သန်းစေပြီး Fractionating Tower ⑥မှတဆင့် Heating Furnace⑦တွင် အပူပေးမည်ဖြစ်ပါသည်။

"a" မှ ပို့လိုက်သည့် ကုန်ကြမ်းများကို Straight-Tube Heat Exchanger ①ကို ဖြတ်သန်းစေပြီး Fractionating Tower⑥မှတဆင့် Heating Furnace⑦တွင် အပူပေးမည် ဖြစ်ပါသည်။

a, b, c မှ ပို့လိုက်သည့် ကုန်ကြမ်းများသည် Heating Furnace ⑦ တွင် အပူပေးပြီး Fractionating Tower⑥တွင် ပြန်ဝင်လာကာ သူ၏အလေးချိန်နှင့်သူ Tower အပေါ်ဘက်ပိုင်းမှ Naphtha များသည် Heat Exchanger ⑤ နှင့် Straight-Tube Heat Exchanger ② တွင် အအေးခံပြီး desulfurization နှင့် Isomerization units များဆီသို့ ပို့ပါသည်။

Tower ⑥အလယ်လောက်မှ Straight-run-Diesel များသည် Heat Exchanger ③နှင့် ④မှ Straight-Tube Heat Exchanger ②တွင် အအေးခံပြီး ရောနှောခြင်းပြုလုပ်ရန် အတွက် Diesel Tank များဆီသို့ ပို့ပါသည်။






Monywa petrochemical refining refinery company limited
No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

(၂)ပြန်လည်ချက်လုပ်မည့်အပိုင်း

ပြန်လည်ချက်လုပ်မည့်အပိုင်းမှာ Tower⑥ထိပ်မှ Dry Gas, Liquefied Petroleum Gas (L.P,G) များသည် ရေအေးထည့်သွင်းထားသည့် Condenser ⑨ နှင့် ⑩ ကို ဖြတ်ပြီး ဆီနှင့်ရေခွဲခြားသည့် ကိရိယာ ⑫ တွင် ရေနှင့်ဆီခွဲခြားပြီး ရေကိုပြန်လည်အသုံးပြုရန်အတွက် circulation water Tank သို့ ပို့ပါသည်။

Gas များကို အခြောက်ခံပြီး Heating Furnace ⑦သို့ ပို့၍ မီးရှို့ပြီးအပူကိုရယူပါသည်။ အချို့ဆီ များကို Fractionating Tower⑦သို့ ပို့၍ ပြန်လည်ချက်လုပ်ပါသည်။

Tower ⑥အောက်ခြေမှ ထွက်လာသော ကုန်ကြမ်းအပျစ်များကို Distillation Tower ⑧မှ တဆင့် Heating Furnace ⑦သို့ ပို့၍ ပြန်လည်ချက်လုပ်ပါသည်။

Tower ⑧ထိပ်မှ ဆီငွေ့များကို ရေအေးထည့်သွင်းထားသော Condenser ⑪ ကို ဖြတ်ပြီး ဆီနှင့် ရေ ခွဲခြားထားသော Tankမှတဆင့် ရေကို circulation water Tank သို့လည်းကောင်း၊ ဆီကို Tower ⑥ သို့ လည်းကောင်း၊ Gasများကို အခြောက်ခံပြီး Heating Furnace ⑦ သို့ လည်းကောင်း ပို့စေ ပါသည်။

အထက်ပါပြစ်စဉ်သည် ကျွန်တော်တို့ စက်ရုံ၏ ရေနံစိမ်းချက်လုပ်မှုနည်းစဉ် ပထမပိုင်း ဖြစ်ပါသည်။

ဒုတိယဖြစ်စဉ်(**Catalytic Cracking Process**)

ဒုတိယဖြစ်စဉ်တွင် အသုံးပြုသောကိရိယာများမှာ-

(၁) Cooling Water Tanks ①,⑧-E-012,E-014-(၂)ခု
(၂) Heating Furnace ②-F-003-(၁)ခု
(၃) Reaction Tank (Reactor)③-T-008-(၁)ခု
(၄) Distillation Column④-T-009-(၁)ခု
(၅) Dry Gas Tank ⑤-D-004-(၁)ခု
(၆) Oil Water Separator Tank ⑥-D-006-(၁)ခု
(၇) Condenser ⑦-E-013-(၁)ခု




(၈) Water Sealed Tank ⑨-D-006-(၁)ခု

(၉) Incinerator (burner)⑩-F-004-(၁)ခုတို့ပါဝင်ပါသည်။

ဒုတိယဖြစ်စဉ်တွင် ပထမဖြစ်စဉ်မှ Fractionating Tower ၏တတိယနေရာတွင် Hydrowax များနှင့် စတုတ္ထနေရာတွင် Residuals များထွက်ရှိလာပါသည်။ ၎င်းတို့သည် Heavy products များဖြစ်ကြပါသည်။ ၎င်းတို့ကို catalyst ကိုအသုံးပြု၍ ခွဲခြေခြင်း cracking ပြုလုပ်ရန် Reacting Tank (Reactor)③မှတဆင့် Heating Furnace ②သို့ပို့ကာ အပူပေးပြီး Reactor သို့ ပြန်ပို့ကာ ခွဲခြေခြင်း cracking ပြုလုပ်ပါမည်။ ထိုမှ ထွက်ရှိလာသော ဆီငွေ့များကို Distillation Column ④ သို့ပို့ကာ Column ထိပ်မှ Gas များထွက်ရှိလာပြီး ရေအေးထည့်ထားသော Condenser ⑦ ဆီနှင့်ရေခွဲခြားသော Oil Water Separator Tank ⑥ သို့ပို့ကာ ဆီနှင့်ရေကို ခွဲခြားပါသည်။၎င်းမှထွက်ရှိလာသော ဓာတ်ဆီ Gasoline များကို Desulfurization unit နှင့် Isomerization unit များသို့ ပို့ကာ ဓာတ်ပြုစေခြင်းဖြင့် RON-70 or RON-80 gasoline ကို ရရှိပါသည်။ Gasများကို water sealed tank ⑨ မှတဆင့် Heating Furnace ② သို့ပို့ကာ စွမ်းအင်ရယူပါသည်။

Diesel များကို cooling water tank ⑧ကို ဖြတ်သန်းစေကာ storage tanks များသို့ ပို့ပါသည်။

ကတ္တရာစေးများကိုလည်း storage tank များသို့ ပို့ကာ လုံးဝသုံးမရသည့် ရေနံဂျိုးများကို Incinerator (burner) ⑩ သို့ပို့ကာ မီးလောင်စေခြင်းဖြင့် အပူစွမ်းအင်ကိုရယူပါသည်။အချို့ကို Distillation Column ④သို့ ပြန်ပို့ကာ ချက်လုပ်မှုဖြစ်စဉ်ကို ပြန်လည်လုပ်ဆောင်ပါသည်။

Distillation Column အောက်ခြေမှ button product များကို အထက်ပါအတိုင်း unit ⑤ , ⑥ , ⑦ တို့ကိုဖြတ်သန်းပြီး ဆီအကျများကို Heating Furnace သို့ ပြန်လည်ပို့ဆောင်ကာ ချက်လုပ်မှုဖြစ်စဉ်ကို ပြန်လည်လုပ်ဆောင်ပါသည်။

ပထမဖြစ်စဉ်၏ တတိယနေရာမှ ထွက်ရှိလာခဲ့သော Hydrowax များကိုလည်း အထက်ပါ Residuals များအတိုင်းလုပ်ဆောင်မည်ဖြစ်ပါသည်။

## တတိယဖြစ်စဉ်(Upgrading Process)

တတိယဖြစ်စဉ်သည် Gasoline ဓာတ်ဆီကို အရည်အသွေးမြှင့်တင်သည့် ဖြစ်စဉ် (upgrading process) ဖြစ်ပါသည်။ အသုံးပြုထားသောကိရိယာများမှာ -

(၁) Heating Furnace –F-002-(၁)ခု

(၂) Reaction Tanks –T-003,004,005,006-(၄)ခု

(၃) Fractionating Tower T-007-(၁)ခု

(၄) Condenser E-009,E-010,E-011-(၁)ခု

(၅) Oil Water Separation Tank D-003-(၁)ခုတို့ကို အသုံးပြုထားပါသည်။

ဖြစ်စဉ်မှာ ပထမဖြစ်စဉ်နှင့် ဒုတိယဖြစ်စဉ်မှ ထွက်ရှိလာသော ဓာတ်ဆီ(Gasoline)များကို Heating Furnace F-002 သို့ပို့ကာ အပူပေးပြီး Reaction Tanks (၄)ခုတွင် ဓာတုတုန့်ပြန်မှု ဖြစ်စေကာ Fractionating Tower –T-007 မှတဆင့် ရေအေးထည့်ထားသော Condenser E-010နှင့် E-011 တို့ကို ဖြတ်ပြီး Oil water separator tank တွင် ရေနှင့်ဆီကိုခွဲကာ-

Gasများကို Heating Furnace သို့ပို့ကာ အပူစွမ်းအင်ကိုရယူပါသည်။

Gasoline ဓာတ်ဆီများကို Blendstock အဖြစ် အသုံးပြုရန် storage tank သို့ပို့ဆောင်ပါသည်။

Tower T-007 အောက်ပိုင်းမှထွက်ရှိလာသော ဆီများကို Condenser E-011 ကိုဖြတ်၍ Gasoline (ဓာတ်ဆီ)ရော Diesel(ဒီဇယ်)ပါထွက်ရှိလာပြီး Storage Tanks များသို့ ပို့ကာ blendstock အဖြစ်ထားရှိမည်ဖြစ်ပါသည်။

အထက်ပါဓာတ်ဆီ (Gasoline Blendstocks)များနှင့် ဒီဇယ် (Diesel Blendstocks) များကို Additives အမျိုးမျိုးထည့်ကာ Blending ပြုလုပ်ခြင်းဖြင့် RON-92 Gasoline နှင့် Premium Diesel တို့ကိုရရှိမည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ စက်ရုံသည် Simulation Software ဖြင့် တွက်ချက်၍ ပန့်(pump)အမျိုးမျိုး အဆို့ရှင် (valves)အမျိုးမျိုးနှင့် compressor အမျိုးမျိုးကို အသုံးပြုထားပြီး အဆင့်မီသော piping system ကို အသုံးပြုထားပြီး အဆက်မပြတ်ထုတ်လုပ်ခြင်း (Continuous Type) ဖြင့် ထုတ်လုပ်မည် ဖြစ်ပါသည်။

အထက်ပါအချက်များသည် ကျွန်တော်တို့စက်ရုံ၏ ချက်လုပ်မှုနည်းစဉ် ဖြစ်ပါသည်။






**Monywa petrochemical refining refinery company limited**

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## အသုံးပြုမည့်ဓာတုပစ္စည်းများ

I. Additives

(a) Gasoline = Ethyl-Tert-Butyl-Ether(E.T.B.E)

(b) Diesel=Isooctyl Nitrate

II. Desulfurization

(a) Gasoline=Alkali

(b) Diesel=Sulfuric Acid

III. Other

(a) Zeolite

(b) Oil Antioxidant-T-501

(c) Activated Clay

(d) Sodium Hydroxide




## Naphtha ကိုဆာဖာလျှော့ချခြင်းနှင့် Isomeration process

နည်းပညာအရ Hydrogen မပါဝင်သော catalyst ကို Isomeration ဖြစ်စဉ်တွင် အသုံးပြုခြင်းသည် ထို Naphtha ၏ Octane Number ကိုမြင့်တက်စေပါသည်။ ဖြစ်စဉ်မှာ-

ပထမဦးစွာ Fractionation Tower အပေါ်ပိုင်းမှ ထွက်ရှိလာသော Straight-run-naphthaudk Alkali ကို အသုံးပြု၍ Desulfurization ပြုလုပ်သည်။ ထို့နောက် ကုန်ကြမ်း Feedstock ကို Heat Exchanger ထဲသို့ ပို့လွှတ်သည်။ ထိုမှ တဆင့် Heating Furance သို့ ဝင်စေကာ အပူချိန်ကို မြင့်တင်ပြီးဓာတ်ပေါင်းဖို Reactor ထဲသို့ ပို့ဆောင်ကာ ဓာတ်တုန့်ပြန်မှုကို ဖြစ်စေပြီး Fractionation Column မှ တဆင့် (၁) Gaasoline (၂)Lequefied Petroleum Gas (L.P.G) နှင့် (၃) Dry Gas တို့သည် Column အပေါ်ပိုင်းမှ ထွက်ရှိလာပါသည်။ Tank Farm သို့ မပို့မီ ထိုထုတ်ကုန်များကို အခြောက်ခံပြီး အနည်းငယ်သာ ထွက်ရှိသည့် သိမ်းဆည်းထားရန် မလိုအပ်သော Dry Gas နှင့် L.P.G တို့ကို မီးပြင်းဖို Furnace သို့ ပို့ကာ မီးလောင်စေခြင်းဖြင့် အပူစွမ်းအင်ထုတ်ယူနိုင်ပါသည်။

## Diesel ဆာဖာလျှော့ချခြင်းနှင့် Cetane Number မြှင့်တင်ခြင်း

စျေးနှုန်းသက်သာပြီး ကောင်းမွန်သော Acid ဖြင့် Desulfurization သည် Diesel Fuel ၏ အရည်အသွေးကို မြင့်တက်စေပါသည်။ ဒီဇယ်ကုန်ကြမ်းများ Diesel feedstock ကို ဓာတ်တုန့်ပြန်မှု ဖြစ်စေရန် မွှေပေးသော ကိရိယာ a reaction stirring kettle ထဲသို့ ပို့ဆောင်ပေးပြီး တစ်ရာခိုင်နှုန်းရှိသော ဆာဖာလျှော့ချပြီး အရောင်နှင့် အနံ့ချွတ်ပေးသော အကူပစ္စည်း Additive နှင့် ဆာဖြူရစ်အက်ဆစ် (Sulfuric Acid) ၂% ကို ထည့်ပေးရပါသည်။ ထို့နောက် (၄၀)မိနစ် ကြာအောင် မွှေပေးပြီးပါက ထို Diesel Feedstock ကို ၆၀ မိနစ် ခန့်ထားကာ အက်စစ် အကြွင်းအကျန်များကို အောက်ခြေမှ ထုတ်ပယ်ပြီး ၂% သော သန့်စင်ပြီး ရွှံ့စေး Activated Clay ကိုထည့်ပေးရင်း ၁၀မိနစ်ခန့် မွှေပေးရပါသည်။ ထို့နောက် ထိုဒီဇယ်များကို

ဖိအားနှင့် ပန့်ကို သုံးပြီး စစ်ထုတ်ခြင်း Filteration လုပ်ပြီးနောက် သိမ်းဆည်းထားရန်အတွက် သိုလှောင်ရန် Tank farm သို့ပို့ဆောင်ပါသည်။

အထက်ဖော်ပြပါတို့သည် Gasoline နှင့် Diesel ကို ဆာဖာလျှော့ချခြင်း Ddesulfu-rization နှင့် အဆင့်မြှင့်တင်ခြင်း Modification ဖြစ်စဉ်အကျဉ်းချုပ် ဖြစ်ပါသည်။

**Provisions on Raw Materials, Products and Indicators**

**(ကုန်ကြမ်းအခြေအနေ၊ ထုတ်ကုန်များရှင်းလင်းချက်)**

1. **Raw materials: crude oil. Specific indicators are as follows:**

(1) Crude oil (ပေါင်းခံမှုဖြစ်စဉ်): distillation range 50-500℃, density 0.82-0.85, water content ≤3%, and organic impurities ≤3%.

(2) Shall not contain animal and plant oil and solvent (otherwise it will cause difficulties in subsequent refining) တိရစ္ဆာန်နှင့် သစ်ပင်မှ ထုတ်လုပ်သော လောင်စာများ မပါဝင်ပါ။

2. **Products (ထုတ်ကုန်များ): diesel oil, residual oil and light component oil**

(1) **Diesel oil**(ဒီဇယ်ဆီ): distillation range 205-380℃, flash point ≥40℃, density 0.82-0.86, viscosity 0-8mm$^2$/s

**Appearance** (အသွင်အပြင်): yellowish, reddish and transparent. Cracked products tend to be oxidized and more colored when exposed to air (stable after refining)

(2) **Residual oil**(ဆီအပျစ်): initial boiling point of distillation range ≥380℃, flash point ≥200℃, viscosity ≥100m㎡/s

(3) **Light component oil**(အပေါ့ထုတ်ကုန်များ-ဥပမာ-ဓာတ်ဆီ၊လေယာဉ်ဆီစသည်): distillation range 50~210℃, flash point ≥ 35℃, viscosity 0 ~ 8mm2/s, appearance: yellowish and transparent




Monywa petrochemical refining refinery company limited
No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

# Technical Solution (နည်းပညာဆိုင်ရာ ဖော်ပြချက်များ)

## Flow Diagram

Crude oil
unqualified products
Crude oil
Light diesel
Crude oil
Gasoline

Heat Exchangers (5)

Fractionationing Tower

Heating Furnace

Distillation Tower

Naphtha
Desulfurization by alkali
Isomerization
dry gas, liquefied Petroleum gas
Liquefied petroleum
Return to Heating Furnace
RON 70-RON80 gasoline
RON 92 blended gasoline

Straight-run diesel
Premium Diesel

Hydrowax
Catalytic cracking
cracked gasoline
Cracked diesel
Desulfurization by acid

Residual oil
Catalytic cracking
Cracked gasoline
Cracked diesel
Desulfurization by acid
(bottom product) Return to raw material tank

Drawing qualification seal for shaanxi survey and design
Xi'an Changkan Oil & Gas Technology Development
Qualification certificate number A6100..325304
Supervised by Housing and Construction Department of Shaanxi Province
Valid until September 2025



PETROCHEMICAL REFINING

# Process One

Monywa petrochemical refining refinery company limited
No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

## Process Flow Diagram of Disposal Project
## စက်ရုံ၏ထုတ်ကုန် စီးဆင်းမှုပြပုံ

1. E-001 Straight tube heat exchanger
2. E-002 Straight tube heat exchanger
3. E-003 Heat exchanger
4. E-004 Heat exchanger
5. E-005 Heat exchanger
6. T-001 Fractionating tower
7. F-001 Heating furnace
8. T-002 Distillation tower
9. E-006 condenser
10. E-007 condenser
11. E-008 condenser
12. D-001 Oil water separator tank
13. D-002 Diesel receiving tank



# Process Two




Monywa petrochemical refining refinery company limited
No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

## Catalytic cracking process flow chart
## ကုန်ကြမ်းအပျစ်များခွဲချေမှုဖြစ်စဉ်

1. E-012 Cooling water tank
2. F-003 Heating furnace
3. T-008 reaction tank
4. T-009 Distillation column
5. D-004 Dry gas tank
6. D-006 Oil water separator tank
7. E-013 condenser
8. E-014 Cooling water tank
9. D-006 Water sealed tank
10. F-004 Incinerator

Residue oil entering
Emptying
Regulating valve
Chilled water out
Chilled water intake
Dry gas to furnace for incineration
D-004 Flowmeter
Oil water separator tank
Diesel reflux
Go storage tank
Cooling water intake
asphalt come out
Top flow reflux
Top oil come out
Flowmeter
dry gas
fuel oil
Light diesel oil comes out
Cooling water intake
P-011/1
P-011/2
P-012/1
P-012/2
P-012/3
P-013/1
P-013/2
P-014/1
P-014/2

| | | | | |
|---|---|---|---|---|
| Construction Unit | Monywa petrochemical refining refinery company limited | | | |
| Project Name | / | | | |
| Number or edition | / | Number | / | |
| Design phase | / | major | / | |
| Picture name | / | | | |
| Map number | / | | Edition | 0 |
| Sheet 1 of 1 | | Proportion | / | |

Qualification seal for shaanxi survey and design
Xi'an Changkan Oil & Gas Technology Development Co.,Ltd
Qualification certificate number A610000032538
Supervised by Housing and Construction Department of Shaanxi Province (L)
Valid until September 2025

# Process Three

PETROCHEMICAL REFINING

Monywa petrochemical refining refinery company limited

No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

## Process flow Diagram of Gasoline Modification Device






# Monywa petrochemical refining refinery company limited

No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

## Layout Plan of Process One (Part -1)







Cyan represents 150 * 150 H steel

White represents 300 * 300 H steel

300 * 300 H steel column

Explain:
1. The dimension unit on the drawing is mm, and the elevation unit is m; the workshop floor elevation is 0.00m. The elevation of the outer road is -0.20 M.
2. The equipment beam is the installation position of the equipment support. The width of the beam surface is required to be no less than the size of the embedded parts, and the strength is required to fully bear the overall weight of the equipment.
3. The anchor bolt of embedded parts shall be 150 mm above the ground and the buried depth shall not be less than 800 mm.
4. All anchor bolts are equipped with double nuts.

| Xi'an Chang Kan Oil and Gas Technology Development Co., Ltd | Construction Unit | Monywa petrochemical refining refinery company limited | | |
|---|---|---|---|---|
| | Project Name | | | |
| | | / | | / |
| | Design phase | / | major | / |
| | Picture name | | | |
| | Map number | / | Edition | 0 |
| | Sheet 1 of 1 | | Proportion | / |

Drawing qualification seal for shaanxi survey and design
Xi' an Changkan Oil & Gas Technology Development Co.,Ltd
Qualification certificate number A610000325304
Supervised by Housing and Construction Department of Shaanxi Province (L)
Valid until September 2025



PETROCHEMICAL REFINING

# Monywa petrochemical refining refinery company limited

No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

## Layout Plan of Process One (Part -2)







Cyan represents 150 * 150 H steel

White represents 300 * 300 H steel

300 * 300 H steel column

Explain:
1. The dimension unit on the drawing is mm, and the elevation unit is m; the workshop floor elevation is 0.00m, The elevation of the outer road is -0.20 M.
2. The equipment beam is the installation position of the equipment support. The width of the beam surface is required to be no less than the size of the embedded parts, and the strength is required to fully bear the overall weight of the equipment.
3. The anchor bolt of embedded parts shall be 150 mm above the ground and the buried depth shall not be less than 800 mm.
4. All anchor bolts are equipped with double nuts.

Xi'an Chang Kan Oil and Gas TechnologyDevelopment Co., Ltd

| Duty | Name | Sign | Date |
|---|---|---|---|
| Design | | | |
| Check | | | |
| Audit | | | |

| | | | |
|---|---|---|---|
| Construction Unit | /Monywa petrochemical refining refinery company limited | | |
| Project Name | | | |
| Number of subitem | / | Manager number | / |
| Design phase | / | major | / |
| Picture name | | | |
| Map number | / | Edition | 0 |
| Sheet 1 of 1 | | Proportion | / |

Drawing qualification seal for shaanxi survey and design
Xi'an Changkan Oil & Gas Technology Development Co., Ltd
Qualification certificate number A610000325304
Supervised by Housing and Construction Department of Shaanxi Province ( L )
Valid until September 2025




# Monywa petrochemical refining refinery company limited

No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

## Layout Plan of Process Two (Part -1)







Cyan represents 150 * 150 H steel

White represents 300 * 300 H steel

350 * 300 H steel column

Explain: 1. The dimension unit on the drawing is mm, and the elevation unit is m; the workshop floor elevation is 0.00m, The elevation of the outer road is -0.20 M.
2. The equipment beam is the installation position of the equipment support. The width of the beam surface is required to be no less than the size of the embedded parts, and the strength is required to fully bear the overall weight of the equipment.
3. The anchor bolt of embedded parts shall be 150 mm above the ground and the buried depth shall not be less than 800 mm.
4. All anchor bolts are equipped with double nuts.

| | |
|---|---|
| Xi'an Chang Kan Oil and Gas TechnologyDevelopment Co., Ltd | |
| Construction Unit | Monywa petrochemical refining refinery company limited |
| Project Name | catalytic cracking process flow chart |
| | catalytic cracking platform layout and frame diagram P2 |
| Edition | 0 |
| Proportion | / |

Drawing qualification seal for Shaanxi survey and design
Xi'an Changkan Oil & Gas Technology Development Co.,Ltd
Qualification certificate number A610000325304
Supervised by Housing and Construction Department of Shaanxi Province (L)
Valid until September 2025




Monywa petrochemical refining refinery company limited
No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

# Layout Plan of Process Two (Part-2)

+16.00
+14.80
+10.15
+6.15
+0.00
F3
F2
F1
Distillation column
reaction tank
Water sealed tank
Cooling water tank
Cooling water tank
Dry gas tank
Oil water separator tank
10 cm thick steel plate
Embedded Parts
Concrete
4175
4175
4175
16925

+16.00
+14.80
+10.15
+6.15
+0.00
F3
F2
F1
Distillation column
condenser
reaction tank
Water sealed tank
Cooling water tank
Dry gas tank
Oil water separator tank

Cyan represents 150 * 150 H steel

White represents 300 * 300 H steel

300 * 300 H steel column

Explain: 1. The dimension unit on the drawing is mm, and the elevation unit is m; the workshop floor elevation is 0.00m. The elevation of the outer road is -0.20 M.
2. The equipment beam is the installation position of the equipment support. The width of the beam surface is required to be no less than the size of the embedded parts, and the strength is required to fully bear the overall weight of the equipment.
3. The anchor bolt of embedded parts shall be 150 mm above the ground and the buried depth shall not be less than 800 mm.
4. All anchor bolts are equipped with double nuts.

Drawing qualification seal for shaanxi survey and design
Xi'an Changkan Oil & Gas Technology Development Co., Ltd
Qualification certificate number
Supervised by Housing and Construction Department of Shaanxi Province




# Monywa petrochemical refining refinery company limited

No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

## Layout Plan of Porcess Three (Part-1)







Cyan represents 150 * 150 H steel

White represents 300 * 300 H steel

300 * 300 H steel column

Explain: 1. The dimension unit on the drawing is mm, and the elevation unit is m; the workshop floor elevation is 0.00m. The elevation of the outer road is -0.20 M.
2. The equipment beam is the installation position of the equipment support. The width of the beam surface is required to be no less than the size of the embedded parts, and the strength is required to fully bear the overall weight of the equipment.
3. The anchor bolt of embedded parts shall be 150 mm above the ground and the buried depth shall not be less than 800 mm.
4. All anchor bolts are equipped with double nuts.



Xi'an Chang Kan Oil and Gas TechnologyDevelopment Co., Ltd

| | | | |
|---|---|---|---|
| Construction Unit | Monywa petrochemical refining refinery company limited | | |
| Project Name | Process flow chart of gasoline lifting standard device | | |
| Manager or subitem | / | Manager number | / |
| Design phase | / | major | / |
| Picture name | Gasoline lifting standard device Platform layout and frame drawing F3 | | |
| Map number | / | Edition | 0 |
| Sheet 1 of 1 | | Proportion | / |

Date
Design
Check
Audit

Drawing qualification seal for shaanxi survey and design
Xi'an Changkan Oil & Gas Technology Development Co.,Ltd
Qualification certificate number A610000325304
Supervised by Housing and Construction Department of Shaanxi Province (L)
Valid until September 2025




Monywa petrochemical refining refinery company limited
No.9/117, Sanpya St, Aung Chan Thar Qt, Monywa, +959-250 388 367

# Layout Plan of Process Three(Part-2)



Gasoline lifting standard device Front view of platform

Gasoline lifting standard device Left side diagram of platform

Cyan represents 150 * 150 H steel

White represents 300 * 300 H steel

300 * 300 H steel column

Explain: 1. The dimension unit on the drawing is mm, and the elevation unit is m; the workshop floor elevation is 0.00m, The elevation of the outer road is -0.20 M.
2. The equipment beam is the installation position of the equipment support. The width of the beam surface is required to be no less than the size of the embedded parts, and the strength is required to fully bear the overall weight of the equipment.
3. The anchor bolt of embedded parts shall be 150 mm above the ground and the buried depth shall not be less than 800 mm.
4. All anchor bolts are equipped with double nuts.

| | |
|---|---|
| Construction Unit | Monywa petrochemical refining refinery company limited |
| Project Name | / |
| Reviewer or Auditor | / |
| Design phase | / |
| Picture name | / |
| No number | / |
| Sheet 1 of 1 | Proportion / |

Drawing qualification seal for Shaanxi survey and design
Xi'an Changtai Oil & Gas Technology Development Co., Ltd
Qualification certificate number: A610000032504
Supervised by Housing and Construction Department of Shaanxi Province (L)
Valid until September 2025




Monywa petrochemical refining refinery company limited
No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367




## Tank များ၏ ကုန်ကြမ်းနှင့် ကုန်ချောသိုလှောင်မှု အခြေအနေ

ကျွန်တော်တို့ ကုမ္ပဏီဆောက်လုပ်မည့် ရေနံချက်စက်ရုံသည် တစ်နေ့လျှင် ရေနံစိမ်းဂါလံ (၃၁၀၀၀)ခန့်မျှ ချက်လုပ်နိုင်မည် ဖြစ်ပြီး စဉ်ဆက်မပြတ်လည်ပတ်မှု (Continuous Type) ဖြင့် ချက်လုပ်မည်ဖြစ်သောကြောင့် ရက်ပေါင်း (၂၀)ချက်လုပ်နိုင်သည့် အတိုင်းအတာဖြစ်သည့် ရေနံစိမ်းကုန်ကြမ်းများနှင့် ထွက်ရှိလာမည့် (အလယ်အလတ်နှင့် ဈေးကွက်တင်ပို့ရောင်းချရန် အသင့်ဖြစ်နေသည့် ကုန်ချောများကို

(1) **1000m$^3$** ဆန့်စည် (264170) ဂါလံ (၈)လုံး

(2) **500m$^3$** ဆန့်စည်(132085)ဂါလံ (၈)လုံး

(3) **300m$^3$**ဆန့်စည်(79251)ဂါလံ (၆)လုံးတို့ဖြင့်ထားသိုထားမည်ဖြစ်ပါသည်။

အထူးသဖြင့်

ကုန်ကြမ်း(၂၀၀၀) **Tons** ကို **1000m$^3$** ဆန့်စည် (၈)လုံးမှ ၂လုံးတွင် ထားသိုမည်ဖြစ်ပြီး ကျန်စည်များတွင် အလယ်အလတ် ကုန်ချောနှင့် ဈေးကွက်တွင် တင်ပို့ရောင်းချရန် အသင့်ဖြစ်နေသော ကုန်ချောများကို ထည့်သွင်း သိုလှောင်ထားမည်ဖြစ်ပါသည်။ အထက်ပါ **Tanks** များသည် **Vertical Cylclindrical** များနှင့် **Horizontal Tanks** များ ဖြစ်ကြပါသည်။

ကျန်ရှိသည့် **30m$^3$** ဆန့် **Tanks 20m$^3$** ဆန့် **Tanks** နှင့် **15m$^3$** ဆန့် **Tanks** များကို ဓာတ်ဆီနှင့် ဒီဇယ် **Blending** ပြုလုပ်သည့်နေရာတွင် အသုံးပြုမည် ဖြစ်ပါသည်။ **Tanks** များအားလုံးကို **Steel** ဖြင့်သာ ပြုလုပ်ထားခြင်း ဖြစ်ပါသည်။ ထိုစည်များသည်

(4)30m$^3$ ဆန့်စည်=(7925.10)ဂါလံ

(5) 20m$^3$ ဆန့်စည်=(5283.40)ဂါလံ

(6)15m$^3$ ဆန့်စည်=(3962.55) ဂါလံ တို့ဖြစ်ကြပါသည်။

မှတ်ချက်။ ။ အမေရိကန်သုံးဂါလံကို ရည်ညွှန်းပါသည်။

PETROCHEMICAL REFINING

Monywa petrochemical refining refinery company limited

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367



**စက်ရုံပိုင်းဆိုင်ရာ အခြေခံမူဝါဒများ**

(၁) နိုင်ငံတော်၏ မူဝါဒများနှင့်အညီ ဒေသတွင်းလိုအပ်ချက်အရ အသင့်တော်ဆုံးဒီဇိုင်းနှင့် အနည်းဆုံးသော မြေအကျယ်အဝန်းဖြင့် လုပ်ဆောင်နိုင်ခြင်းရှိရမည်။

(၂) တိုတောင်းသော ထုတ်လုပ်မှုကာလတွင် အကျိုးကျေးဇူးအများဆုံး ရရှိနိုင်စေရန် စဉ်ဆက်မပြတ် ထုတ်လုပ်မှု Continuous Type ဖြင့် ထုတ်လုပ်မည်။

(၃) သဘာဝပတ်ဝန်းကျင် အခြေအနေဆိုင်ရာ Topography, Geography နှင့် Meterology အရ ကိုက်ညီသော ဆောက်လုပ်ရေးနှင့် စိမ်းလန်းစိုပြေရေးဖြစ်ရမည်။

(၄) စက်ရုံ၏ အစိတ်အပိုင်းများကို တပ်ဆင်တည်ဆောက်ရာတွင် မီးဘေးကြိုတင်ကာကွယ်ရေး၊ လုပ်သားများ လုံခြုံစိတ်ချရရေး၊ ကျန်းမာရေးနှင့် အမျိုးမျိုးသော လုံခြုံရေးလိုအပ်ချက်များကို ပြည့်မီစေရေးနှင့် မြေပေါ်မြေအောက်ပိုက်လိုင်းများနှင့် သယ်ယူပို့ဆောင်ရေးလုပ်ငန်းများတွင် အန္တရာယ်ကင်းရှင်းရေးစသည်တို့ ဖြစ်ကြပါသည်။

**စက်ရုံဧရိယာအတွင်းရှိ လမ်းများကိုလည်း အကျယ် 6m-8m ရှိစေပြီး အဓိကနေရာများတွင် 12m-15m ထားရှိကာ မီးဘေးကာကွယ်မှု ဖြစ်စေမည်ဖြစ်သည်။**

**စိမ်းလန်းစိုပြေရေးစီမံကိန်း**

စက်ရုံဧရိယာမှ လစ်လပ်နေသော မြေနေရာများကို စိမ်းလန်းစိုပြေရေး လုပ်ဆောင်မည်ဖြစ်သည်။ ထိန်းချုပ်ခန်းနှင့် လူနေအဆောက်အဦးများဝန်းကျင်တွင် အဓိက စိမ်းလန်းစိုပြေစေပြီး လှပနေစေရန် တန်ဆာဆင်သည့် သစ်ပင်များကို စိုက်ပျိုးထားရှိမည်။ ဆီသိုလှောင်နယ်မြေဝန်းကျင်တွင် မြက်ခင်းများ စိုက်ပျိုးထားပြီး အမြဲစိမ်းလန်းနေသော သစ်ပင်ငယ်များနှင့် ပန်းရုံများစိုက်ပျိုးထားမည် ဖြစ်သည်။







Monywa petrochemical refining refinery company limited
No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## ဆီသိုလှောင်ထားရှိမှုအစီအမံ

စက်ရုံ၏ ကုန်ကြမ်းနှင့် ကုန်ချောများကို အဓိကအားဖြင့် ထောင့်မှန်ကျပြီး စလင်ဒါပုံရှိသည့် သိုလှောင်ကန်များနှင့် အထက်အောက်ရှည်သော သိုလှောင်ကန်များကို အသုံးပြုမည် ဖြစ်သည်။ ကုန်ကြမ်းများ၊ အလယ်အလတ်ကုန်ချောများ ဖြန့်ချိရန် အသင့်ဖြစ်နေသော ကုန်ချောများကို စနစ်တကျ သိုလှောင်ထားမည် ဖြစ်သည်။ စဉ်ဆက်မပြတ် ထုတ်လုပ်ခြင်းအတွက် လိုအပ်သော ကုန်ကြမ်း 2000tons ကို 1000$m^3$ ရှိ သိုလှောင်ကန်(၈)လုံးမှ (၂)လုံးထဲတွင် သိုလှောင်ထားပြီး 500$m^3$ ရှိ ကန်(၈)လုံးနှင့် 300$m^3$ ရှိ ကန် (၆)လုံးတို့ကို အလယ်အလတ် ထုတ်ကုန်နှင့် အပြီးသတ်ကုန်ချော သိုလှောင်ရန် ဆောက်လုပ်မည် ဖြစ်သည်။ (နောက်တွင် ပုံများကို ပူးတွဲ တင်ပြထားပါသည်။)

## စက်ရုံဆောက်လုပ်မည့်နည်းပညာ

စက်ရုံစီမံကိန်းအတွင်းရှိ မြေအားလုံးရှိ မြေပြင်အနေအထားသည် ပြင်ညီ ဖြစ်ပါသည်။ ဆိုဒ် အင်ဂျင်နီယာက ဆင်ခြေလျှော ပုံစံ တည်ဆောက်မည်ဖြစ်သည်။ မြေပြင်ပေါ်သို့ ကျရောက်လာမည့် မိုးရေများသည် ပိုက်လိုင်းများထဲသို့ စီးဝင်သွားမည်ဖြစ်ပြီး အခြားမိုးရေများသည် ဆင်ခြေလျှော တစ်လျှောက် စီးဆင်းသွားကာ လမ်းအစွန်သို့ ရောက်ရှိပြီး စက်ရုံအတွင်းရှိ မိုးရေစုဆောင်းသည့် ပိုက်လိုင်းထဲသို့ ရောက်ရှိကာ မိုးရေစုဆောင်းသည့် (Tank)ထဲသို့ ရောက်ရှိသွားမည် ဖြစ်သည်။ ထိုမိုးရေများကို ရေပြန်လည်သန့်စင်သည့် စနစ်ကို အသုံးပြုထားပါသည်။

## စက်ရုံ၏ ဒီဇိုင်းအခြေခံ

ကုန်ကြမ်း၏အခြေအနေနှင့် ထုတ်လုပ်နိုင်စွမ်း အနေအထားအရ ကျွန်တော်တို့ စက်ရုံ၏ ဒီဇိုင်းကို ကာဗွန်ဒိုင်အောက်ဆိုဒ် ထွက်ရှိမှုအနည်းဆုံးနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးကို အဓိက အခြေခံ၍ ရေးဆွဲခဲ့ပါသည်။ အထူးသဖြင့် ရေနံဓာတုလုပ်ငန်းဆိုင်ရာ လိုအပ်သော ရေနံစိမ်းပို့လွှတ်မှုကို Simulation Software ဖြင့်တွက်ချက်၍ Column, Heating Furnace







နှင့် Cold exchanger များကို တွက်ချက်သတ်မှတ် ရရှိလာသော ရလဒ်ပေါ်တွင် အခြေခံ၍ ပြုလုပ်ထားပါသည်။

စက်ရုံစက်ကိရိယာများ၏ အတွင်းပိုင်းတွင် အတိုင်းအတာညီသည့် Column (၃) ခုနှင့် မတူညီသော လုပ်ဆောင်မှုများရှိသည့် ကိရိယာတန်ဆာပလာများနှင့် လင်ဗန်းများ၊ သင့်တင့်လျောက်ပတ်သော အတွင်းပိုင်းပစ္စည်းများကို ဒေသအခြေအနေနှင့် ကိုက်ညီစေရန် လုပ်ဆောင်ထားပါသည်။ စက်ရုံကြီး တစ်ခုလုံး၏ ဒီဇိုင်းကို Simulation Software ဖြင့် တွက်ချက်မှုကို အခြေခံထားခြင်း၊ အတွေ့အကြုံ ရင့်ကျက်သော အင်ဂျင်နီယာများ ရေးဆွဲခြင်း၊ အခြားအပိုင်း ကဏ္ဍများဖြစ်သော စက်ရုံလည်ပတ်စဉ်တွင် ကိရိယာများ၏ တည်ငြိမ်စေခြင်း၊ လုပ်ငန်းလည်ပတ်ချိန်အတိုင်းအတာ၊ စီးပွားရေးတွက်ခြေကိုက်မှုတို့ကိုလည်း Simulation Software အရ တွက်ချက်ထားခြင်းဖြစ်ပါသည်။

PETROCHEMICAL REFINING

# Monywa petrochemical refining refinery company limited

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## 1000㎥ Tank များ၏ဒီဇိုင်းပုံစံ




## 1000m³(၂၄၁၇၀ဂါလံ)

| |
|---|
| Drawing qualification seal for shaanxi survey and design |
| Xi' an Changkan Oil & Gas Technology Development Co.,Ltd |
| Qualification certificate number A6100000325304 |
| Supervised by Housing and Construction Department of Shaanxi Province (L) |
| Valid until September 2025 |

PETROCHEMICAL REFINING

# Monywa petrochemical refining refinery company limited

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## 500m³ Tank များ၏ ဒီဇိုင်းပုံစံ




## 500m³ (၁၃၂၀၈၉ဂါလံ)



PETROCHEMICAL REFINING

Monywa petrochemical refining refinery company limited

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## 300m³ Tank များ၏ဒီဇိုင်းပုံစံ




## 300m³ (၇၉၂၅ဂါလံ)



PETROCHEMICAL REFINING

# Monywa petrochemical refining refinery company limited

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## 30㎥ Tank များ၏ ဒီဇိုင်းပုံစံ




## 30m³ (၇၉၂၅၇ဂါလံ)

| Drawing qualification seal for shaanxi survey and design | |
|---|---|
| Xi' an Changkan Oil & Gas Technology Development Co.,Ltd | |
| Qualification certificate number | A6100000325304 |
| Supervised by Housing and Construction Department of Shaanxi Province ( L ) | |
| Valid until September 2025 | |

PETROCHEMICAL REFINING

## Monywa petrochemical refining refinery company limited

No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

# 20㎥ Tank များ၏ ဒီဇိုင်းပုံစံ




# $20m^3$ (၂၀၀၀၀ လီ)






Monywa petrochemical refining refinery company limited
No. 9-117, Sanpya St, Aung Chan Thar Qt, Monywa, Sagaing Region Myanmar. +959-250388367

## 15㎥ Tank များ၏ဒီဇိုင်းပုံစံ




# $15m^3$ (၃၉၆၂.၅ဂါလံ)

| Drawing qualification seal for shaanxi survey and design | |
|---|---|
| Xi' an Changkan Oil & Gas Technology Development Co.,Ltd | |
| Qualification certificate number | A6100000325304 |
| Supervised by Housing and Construction Department of Shaanxi Province ( L ) | |
| Valid until September 2025 | |




## နှစ်ဦးသဘောတူရေနံစိမ်းရောင်းချခြင်း သဘောတူကတိစာချုပ်

ရက်စွဲ။ ၂၀၂၀ ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( ၁၀ )ရက်

| | |
|---|---|
| ရေနံစိမ်းရောင်းချသူ | - ဒေါ်အေးအေးစန်း |
| | - ၈/မလန(နိုင်) ၀၅၁၆၀၅ |
| | - မင်းလှမြို့နယ်၊ သရက်ခရိုင်၊ မကွေးတိုင်းဒေသကြီး |
| ရေနံစိမ်းဝယ်ယူသူ | - ဦးစိုင်းလှဝင်း(ဒါရိုက်တာ) |
| | - Monywa Petrochemical Refining Refinery Co.Ltd |
| | - ၁၃/မကန(နိုင်)၀၂၃၁၄၇ |
| | - အမှတ်(၉/၁၁၇)၊ စံပြလမ်း၊ အောင်ချမ်းသာရပ်ကွက်၊ မုံရွာမြို့ |
| ရေနံစိမ်းဝယ်ယူမည့်နေရာ | - ကန်တုတ်ဒေသ၊ မင်းလှမြို့နယ်၊ သရက်ခရိုင်၊ မကွေးတိုင်းဒေသကြီး |

အထက်ဖော်ပြပါ ရေနံစိမ်းရောင်းချသူနှင့် ရေနံစိမ်းဝယ်ယူသူဟု ဆိုရာတွင် ၎င်းတို့အသီးသီးအပြင် ၎င်းတို့၏ အမွေဆက်ခံသူတရားဝင် ကိုယ်စားလှယ်လွှဲစာရသူ၊ ကိုယ်စားပြုခြင်းခံရသူ၊ လွှဲပြောင်းခြင်းခံရသူနှင့် ၎င်းတို့နှင့် သက်ဆိုင်သူအားလုံး ပါဝင်သည်ဟု မှတ်ယူရမည်။

ဒေါ်အေးအေးစန်း တရားဝင်ပိုင်ဆိုင်ထားသော ရေနံမှော်အတွင်းရှိ လုပ်ကွက်မှ ထွက်ရှိသော ရေနံစိမ်းများကို ကာလပေါက်ဈေးဖြင့် Monywa Petrochemical Refining Refinery Co.Ltd တည်ဆောက်မည့် စက်ရုံဆောက်လုပ်ပြီးစီးသည့် ကာလမှ စတင်၍ ဒေါ်အေးအေးစန်း ၏ ရေနံတွင်းမှထွက်ရှိသမျှ ရေနံစိမ်းအားလုံးကို Monywa Petrochemical Refining Refinery Co.,Ltdသို့ ရောင်းချပေးရမည်ဖြစ်ပြီး အခြားမည်သူတစ်ဦး တစ်ယောက်ကိုမျှ ရောင်းချခြင်းမပြုရန် နှစ်ဦးနှစ်ဘက်မှ ကတိပြုလက်မှတ်ရေးထိုး၍ စာချုပ်ချုပ်ဆိုကြပါသည်။

| ရေနံစိမ်းရောင်းချသူ | ရေနံစိမ်းဝယ်ယူသူ |
|---|---|
| (လက်မှတ်) | (လက်မှတ်) |
| ဒေါ်အေးအေးစန်း | ဦးစိုင်းလှဝင်း(ဒါရိုက်တာ) |
| ၈/မလန(နိုင်) ၀၅၁၆၀၅ | ၁၃/မကန(နိုင်)၀၂၃၁၄၇ |

အသိသက်သေများ

| | |
|---|---|
| (လက်မှတ်) | (လက်မှတ်) |
| ၁။ ဦးဘိုမင်းအောင် | ၂။ ဦးစိုး |
| ၈/မမန(နိုင်)၁၅၇၅၃၄ | ၅/မရန(နိုင်)၀၄၅၃၆၄ |

မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့
ရေနံစိမ်း(ကုန်းလမ်း)သယ်ဆောင်ခွင့်လက်မှတ်
အမှတ်စဉ်(၆၆၇၁/ ၂၀၁၉-၂၀၂၀)

ရက်စွဲ၊၂၀၂၀ပြည့်နှစ် ၊ ဖေဖော်ဝါရီ(၂၁)ရက်

မကွေးတိုင်းဒေသကြီး၊ သရက်ခရိုင်၊ မင်းလှမြို့နယ်၊ ကန်တုတ်ဒေသတွင် ရေနံလက်ယက်တွင်းထုတ်လုပ်ခွင့် လိုင်စင်ရရှိသူ ဒေါ်အေးအေးစန်း၏(စ)ဦး၏ ထုတ်လုပ်မှုရေနံစိမ်းများကို ဒေါ်အေးအေးစန်း၊ နိုင်ငံသားစိစစ်ရေး ကတ်အမှတ်၊ ၈/မလန(နိုင်)၀၅၁၆၇၅ ၏ လျှောက်ထားချက်အရ အောက်ပါရေနံစိမ်းကို သယ်ယူခွင့်ပြုသည်-

| | | |
|---|---|---|
| (က) | သယ်ဆောင်ခွင့်ပြုသည့်အရေအတွက် | - (၁၈၀)စည် / ဂါလန်(၉၀၀၀) |
| (ခ) | အစိုးရအဖွဲ့ဘဏ္ဍာငွေစာရင်းသို့ဝန်ဆောင်ခ ပေးသွင်းသည့်ချလံအမှတ်နှင့် ရက်စွဲ | - ချလံအမှတ်(၁၃၃/၁) - (၂၀-၂-၂၀၂၀) |
| (ဂ) | လက်ခံမည့်ရေနံစိမ်းချက်လုပ်ရန်လိုင်စင်ရရှိသူအမည် မြို့နယ်၊ ရပ်ကွက်/ကျေးရွာအုပ်စု | - ဦးအောင်နိုင် - မုံရွာမြို့နယ်၊ ကျောက္ကာကျေးရွာ |
| (ဃ) | သယ်ဆောင်ရမည့်ထုတ်ပိုးမှုပုံစံ | - ရေနံစိမ်းသယ် Boxer (2TLR-1918) |
| (င) | သယ်ဆောင်ခွင့်ပြုသည့်ရက် | - (၂၁-၂-၂၀၂၀) မှ (၂၂-၂-၂၀၂၀) ထိ |
| (စ) | သယ်ဆောင်မည့်ယာဉ်အမှတ် | - (1P/4364) (၂၂-ဘီး) (သတ္တု) |
| (ဆ) | ယာဉ်မောင်းသူအမည် | - ဦးဇော်မင်းနိုင် |
| (ဇ) | သယ်ဆောင်မည့်လမ်းကြောင်း | - ကန်တုတ်-ရေနံမ-မင်းလှ-မကွေး-ရေနံချောင်း-ငွေချို-ပခုက္ကူ-မြိုင်-လင်းကတော-ဆားလင်းကြီး-အလုံ-မင်းဒေါက်-မုံရွာ |
| (ဈ) | လမ်းတံတားသုံးစွဲမှုကန့်သတ်ချက် | - ၁၃တန်သာခံနိုင်ဝန်အားရှိသည့် တံတားတွင် လမ်းလွှဲမှမောင်းနှင်ရန်၊ |
| (ည) | ရပ်နားခြင်းမပြုရန်နေရာကန့်သတ်ချက် | - စာသင်ကျောင်း၊ ဈေး၊ လူစည်ကားသည့် နေရာတွင်ယာဉ်မရပ်ရ၊ |
| (ဋ) | သတိပြုလိုက်နာဆောင်ရွက်ရမည့်အချက် | - ဘေးအန္တရာယ်ကင်းရှင်းရေးအတွက်ဆီသယ် ယာဉ်များလိုက်နာရမည့် စည်းကမ်းများနှင့် လမ်းညွှန်ချက်များကိုလိုက်နာရန်။ |

မှတ်ချက်။ (၁) မုံရွာသို့သယ်ဆောင်မည့်ယာဉ်များအနေဖြင့်မြိုင်မြို့နယ်ရှိစစ်ဆေးရေးဂိတ်များနှင့် သံမြေကျင်းရှိ "မြတ်နိုးသူ" TollGate ၌ မပျက်မကွက် အစစ်ဆေးခံပြီးမှ ဖြတ်သန်းသယ်ဆောင်ရန်၊

**(၂) ရောဝတီတိုင်းဒေသကြီးသို့ သယ်ဆောင်မည့်ယာဉ်များအနေဖြင့် မင်းတုန်းမြို့နယ်ရှိ စစ်ဆေးရေး ဂိတ်တွင် မပျက်မကွက်အစစ်ဆေးခံပြီးမှဖြတ်သန်းသယ်ဆောင်ရန်။**

(၃) ရောဝတီတံတား(မကွေး)သို့ ဖြတ်သန်းသယ်ဆောင်သည့်ယာဉ်များအနေဖြင့် ရောဝတီတံတား စစ်ဆေးရေးဂိတ်တွင် မပျက်မကွက် အစစ်ဆေးခံပြီးမှ ဖြတ်သန်းသယ်ဆောင်ရန်။

(မြင့်ဇော်)
အလုပ်သမားရေးရာဝန်ကြီး

ဖြန့်ဝေခြင်း
ဒေါ်အေးအေးစန်း (လျှောက်ထားသူ)
မိတ္တူကို
ရုံးလက်ခံ




## နှစ်ဦးသဘောတူရေနံစိမ်းရောင်းချခြင်း သဘောတူကတိစာချုပ်

ရက်စွဲ။ ၂၀၂၀ ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( ၁ )ရက်

ရေနံစိမ်းရောင်းချသူ - ဦးကိုင်ဇာလတ်
- ၈/ပခက(နိုင်) ၂၅၈၃၇၅
- ပခုက္ကူမြို့နယ်၊ ပခုက္ကူခရိုင်၊ မကွေးတိုင်းဒေသကြီး

ရေနံစိမ်းဝယ်ယူသူ - ဦးစိုင်းလှဝင်း(ဒါရိုက်တာ)
- Monywa Petrochemical Refining Refinery Co.Ltd
- ၁၃/မကန(နိုင်)၀၂၃၁၄၇
- အမှတ်(၉/၁၁၇)၊ စံပြလမ်း၊ အောင်ချမ်းသာရပ်ကွက်၊ မုံရွာမြို့

ရေနံစိမ်းဝယ်ယူမည့်နေရာ - ရေခါးရေနံမြေပခုက္ကူခရိုင်၊ မကွေးတိုင်းဒေသကြီး

အထက်ဖော်ပြပါ ရေနံစိမ်းရောင်းချသူနှင့် ရေနံစိမ်းဝယ်ယူသူဟု ဆိုရာတွင် ၎င်းတို့အသီးသီးအပြင် ၎င်းတို့၏ အမွေဆက်ခံသူတရားဝင် ကိုယ်စားလှယ်လွှဲစာရသူ၊ ကိုယ်စားပြုခြင်းခံရသူ၊ လွှဲပြောင်းခြင်းခံရသူနှင့် ၎င်းတို့နှင့် သက်ဆိုင်သူအားလုံး ပါဝင်သည်ဟု မှတ်ယူရမည်။

ဦးကိုင်ဇာလတ် တရားဝင်ပိုင်ဆိုင်ထားသော ရေနံမှော်အတွင်းရှိ လုပ်ကွက်မှ ထွက်ရှိသော ရေနံစိမ်းများကို ကာလပေါက်ဈေးဖြင့် Monywa Petrochemical Refining Refinery Co.Ltd တည်ဆောက်မည့် စက်ရုံဆောက်လုပ်ပြီးစီးသည့် ကာလမှ စတင်၍ ဦးကိုင်ဇာလတ်၏ ရေနံတွင်းမှထွက်ရှိသမျှ ရေနံစိမ်းအားလုံးကို Monywa Petrochemical Refining Refinery Co.,Ltdသို့ ရောင်းချပေးရမည်ဖြစ်ပြီး အခြားမည်သူတစ်ဦး တစ်ယောက်ကိုမျှ ရောင်းချခြင်းမပြုရန် နှစ်ဦးနှစ်ဘက်မှ ကတိပြုလက်မှတ်ရေးထိုး၍ စာချုပ်ချုပ်ဆိုကြပါသည်။

| | |
|---|---|
| ရေနံစိမ်းရောင်းချသူ | ရေနံစိမ်းဝယ်ယူသူ |
| ဦးကိုင်ဇာလတ် | ဦးစိုင်းလှဝင်း(ဒါရိုက်တာ) |
| ၈/ပခက(နိုင်) ၂၅၈၃၇၅ | Monywa Petrochemical Refining Refinery Co.Ltd |

အသိသက်သေများ

| | |
|---|---|
| ၁။ ဦးကိုလတ် | ၂။ ဦးစိုး |
| ၈/ပခက(နိုင်) ၂၃၆၄၆၄ | ၅/မရန(နိုင်)၀၄၅၃၆၄ |

